ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ဝ၂ဝ /၂ဝ၁၇ ၂ဝ၁၇ ခုနှစ်၊ ဩဂုတ်လ ၂၀ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဂ) အရ ဤခွင့်ပြုမိန့်ကိုထုတ်ပေးလိုက်သည်-

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးအောင်လှိုင်ဦး

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ ၁၁၂ဝ/ ၁၁၂၁၊ သုမင်္ဂလာလမ်း၊ ၁၆/၄ရပ်ကွက်၊ သဃ်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ မြန်မာဓာတုဗေဒနှင့်စက်ပစ္စည်းကုမ္ပဏီလီမိတက် ၁၁၂ဝ/ ၁၁၂၁၊ သုမင်္ဂလာလမ်း၊ ၁၆/၄ရပ်ကွက်၊ သဃ်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့ ရှာဖွေရေးလုပ်ငန်းများအတွက် ထောက်ပံ့ပို့ဆောင်ရေးစခန်း တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်း (Offshore Supply Base)

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၅ဝ၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ်- (၁၃၇+၁၄၅)၊ (၁၁၁+၁ဝ၅) ရှိ မြေ ၄၄.၈၄ ဧက၊ ကွင်းအမှတ်- ၅ဝ၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေဧက ၉၅.၅ဧကနှင့် ကွင်း အမှတ်-၅ဝ၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ် N ၈၃ နှင့် N ၁၄၁ ရှိ ဥယျာဉ်မြေ(၃.ဝဝ+၃.၃၆) ဧက စုစုပေါင်းမြေ ၁၄၆.၇ဝ ဧက

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ အမေရိကန်ဒေါ်လာ ၇၂.၇၂ သန်း

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ၂ နှစ်

(၁ဝ) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၁၃ဝ,၈၄၂.ဝဝ သန်း (အမေရိကန်ဒေါ်လာ ၇၂.၇၂ သန်း အပါအဝင်)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၂ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် မြန်မာဓာတုဗေဒနှင့်စက်ပစ္စည်း ကုမ္ပဏီလီမိတက် (Myanmar Chemical & Machinery Company Limited)

20.8.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက - ၅/မ-၀၀၂/၂၀၁၇ (၃၇၇-၁)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၀ ရက်

အကြောင်းအရာ။ **Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက်) ၏ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့ရှာဖွေရေး လုပ်ငန်းများအတွက် ထောက်ပံ့ပို့ဆောင်ရေးစခန်း တည်ဆောက်၍ ဝန်ဆောင်မှုပေး ခြင်းလုပ်ငန်း(Offshore Supply Base) ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Myanmar Chemical & Machinery Company Limited ၏ ၂၃-၅-၂၀၁၇ ရက်စွဲပါတင်ပြစာ

၁။ Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက်) မှ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ်- (၁၃၇+၁၄၅)၊ (၁၁၁+၁၀၅) ရှိ မြေ ၄၄.၈၄ ဧက၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေဧက ၉၅.၅ ဧကနှင့် ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ် N ၈၃ နှင့် N ၁၄၁ ရှိ ဥယျာဉ် မြေ (၃.၀၀+၃.၃၆) ဧက စုစုပေါင်းမြေ ၁၄၆.၇၀ ဧကတွင် ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအတွက် ထောက်ပံ့ပို့ဆောင်ရေးစခန်းတည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်း လုပ်ငန်း (Offshore Supply Base) အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၇ ခုနှစ် ဩဂုတ်လ ၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၇) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက်) အား ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအတွက်ထောက်ပံ့ပို့ဆောင်ရေးစခန်းတည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်း လုပ်ငန်း (Offshore Supply Base) ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၂၀/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

ကန့်သတ်

၂။ Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာ ဆောင်ရွက်ရမည်-

(က) Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၂)အရ မြေအသုံးပြုခွင့်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ဝန်ဆောင်မှုရည်မှန်းချက်များကို အကောင်းဆုံး** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်းကုမ္ပဏီလီမိတက်)အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၁)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့် အညီလိုက်နာဆောင်ရွက်ရမည်။

(ဃ) Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့်စက် ပစ္စည်းကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)တို့ကို သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် အညီ ဆောင်ရွက်ရမည်။

(င) Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက် ပစ္စည်းကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်း ဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက် ပစ္စည်းကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြု မိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီ ရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေအသုံးပြုခွင့်နှင့် ပတ်သက်၍ မြေအသုံးချမှု ပြောင်းလဲခြင်းလုပ်ငန်းစဉ်အား သက်ဆိုင်ရာ ဥပဒေနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြသွားရမည်။

၄။ Myanmar Chemical & Machinery Company Limited (မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရ ဖြစ်စေ၊ အခြားလိုအပ် ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာန နှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာန နှင့် မြေငှားရမ်းခြင်းစာချုပ် ချုပ်ဆိုသည် ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာ ဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(signature) ၂၀.၈.၁၇

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက- ၅(စ)/မ-၀၀၂/၂၀၁၇( )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၀ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရခိုင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ စစ်တွေမြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ပြည်နယ်ဦးစီးမှူးရုံး၊ ရခိုင်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်း ကုမ္ပဏီလီမိတက် (Myanmar Chemical & Machinery Company Limited)